# " မာတိကာ "


၁။ အမွေမှန်ဆက်ခံခြင်း

၂။ အစဉ်အဆက်ဖြစ်တည်ခြင်း

၃။ စေတီဟူသည်ကား

၄။ စေတီခုနစ်မျိုး

၅။ လိုက်နာသိရှိအပ်သော အကြောင်းတရား

၆။ ဘုရားစေတီတည်ထားကိုးကွယ်ပူဇော်ကြသူများ

၇။ ပူဇော်ကြခြင်းအကြောင်းအရင်း

၈။ သိထားအပ်သော အကြောင်းတရားများ

၉။ စေတီတော်၏ ရသဂုဏ်အညွှန်းများ

၁၀။ ပုံသဏ္ဌာန်ကွဲပြားခြားနားခြင်း

၁၁။ ပုဂ္ဂိုလ်တိုင်း စေတီတည်ရန် သင့်/မသင့်

၁၂။ ဘုရားစေတီမတည်သင့်သောပုဂ္ဂိုလ်များ

၁၃။ ဘုရားစေတီများတွင် ဖြစ်တည်နေသော အင်္ဂါသုံးရပ်အားခွဲခြားခြင်း

၁၄။ ရုပ်ပွား(ဝါ)ဆင်းတုတော်များ တည်ထားပူဇော်ခြင်း

၁၅။ သွန်းလောင်းရုပ်ပွားတော်များ

၁၆။ ရုပ်ပွားဆင်းတုဖြစ်ပူဇော်ခြင်း

၁၇။ သဏ္ဌာန်တော်များ

၁၈။ ဘုရားစေတီများနှင့် ရုပ်ထုများဆက်စပ်ပုံ

၁၉။ ရှပ်ထုများ ပူဇော်ရာ၌ သတိပြုရမည့် အချက်များ
၂၀။ ရှပ်ထုများနှင့် ပူးတွဲပူဇော်ခြင်း
၂၁။ စကားအမှားပြင်သင့်ပြီ
၂၂။ လွဲမှားစွာ ခွဲခြားရှုမှတ်ပြောဆိုခြင်း
၂၃။ ဖြစ်စဉ်မှန်အတိုင်း တည်ဆောက်ပူဇော်ခြင်း
၂၄။ အင်္ဂါပြည့်စုံသောနေရာ
၂၅။ တရားစခန်းတစ်ခုတည်ဆောက်ခြင်း(ဝါ)ပူဇော်ခြင်း
၂၆။ ပြုလုပ်ဆောင်ရွက်မှုမှားခြင်းကြောင့် ဆုံးရှုံးနစ်နာမှုများ
၂၇။ ပြုလုပ်ဆောင်ရွက်မှုမှန်ကန်ခြင်းကြောင့်ရနိုင်သော အကျိုးထူးများ
၂၈။ သာသနာတော်များ ထိန်းသိမ်းစောင့်ရှောက်ကြသူများ
၂၉။ ပုံကြမ်းရေးသွင်းဖော်ပြခြင်း

# " အမွေမှန်ဆက်ခံခြင်း "

❖ သူတော်ကောင်းခေတ်-ခုနစ်ရပ်တည်စေ
မဂ္ဂင်စွမ်းအား-ရှစ်ပါးရပေ
မချွတ်မလွဲ-အမြဲစင်နေ
ထိုသူများဘုရားတည်ထားစေ

❖ ရှေးကကောင်းမှု ပြုဘူးမှန်ပေ
အတိသရ ဥာဏ်များ-ထင်ရှားဖြစ်နေ
မချွတ်မလွဲ-အမြဲမှန်နေ
ထိုသူများ ဘုရားတည်ထားစေ

❖ တိုင်းပြည်အုပ်စိုး-မင်းမျိုးမှန်စွာ
ဖြစ်တည်လာရ-သည်ဘဝတွင်သာ
မချွတ်မလွဲ-အမြဲမှန်စွာ
ထိုသူများ-ဘုရားတည်ကြရှာ

❖ များစွာလူပေါင်း-စုဆောင်းအထွေထွေ
ပြုကုန်ပါကြ-ကုသလအထွေထွေ
မချွတ်မလွဲ-ပျော်မြဲကာလေ
ထိုသူများ-ဘုရားတည်ကြပေ

❖ ဘုရားတည်ခြင်း-ကောင်းခြင်းမင်္ဂလာ
ပြုကြသူအများ-စိတ်ထားဖြူစွာ
ရရှိအကျိုးမျှော်ကိုးမပါ-သာသနာအကျိုး
မျှော်ကိုးသူတို့ရှာ-အမွေမို့-အစွန့်ရှည်ဘို့ရာ

# " စဉ်ဆက်ဖြစ်တည်ခြင်း "



သုံးလောကထွန်းထား မြတ်ဘုရားသခင်

နတ်ဖြစ်စဉ်က-မဟာသက္ကရာဇ် (၆၇) ကြံ့ဝါဆိုလပြည့် ကြာသပတေးနေ့တွင် နတ်သက်ချေဖျက် လူလောကသို့ ဆင်းသက်ပြီးလျှင် မယ်တော်မာယာ မိကလျာ၌ စင်ကြယ်ဦးခိုက် ဝမ်းကြာတိုက်တွင် ပရိသန္ဓေ နေခဲ့ချေပြီ နတ်လူအောင်မြို့လမ်း ပေမို့

ထိုမှတဖုံ ကဆုန်လပြည့် သောကြာနေ့ ရေတွက် သက္ကရာဇ် ၆၈ တွင် မိခင် မာတာ -မောင်ရှိရာသို့ သွားသည့် ခရီး မပြီးတထောက်-အင်ကြင်းပင်ပေါက်သည့် တောအရပ်သို့ အရောက်တွင် သားလှရတနာမြတ်သည်းညှာကို မာတာ မိခင်ဖွား သန့်စင်သည် သုံးဖော်လူတို့ ငြမ်းပါကိုဝ့်

ဖွားမြင်မြောက်သော် ဆယ်ခြောက်နှစ်ဝယ် ပျိုနုနယ်စဉ် ယသော်ဓရာလှ ခင်နှမနှင့် စုလျားရစ်ပတ် လက်ထပ်ထိမ်းမြား ဆယ်သုံးနှစ်ကြာသွား လေးပါးနိမိတ်တွေ့ရှိထားချိန် သမုဒယနှောင်ကြိုး ထပ်ဆင့်တိုးသည့် ဖြစ်မျိုးမှန်စွာ ရာဟုလာအား မွေးဖွားသန့်စင် မကြာခင်၌ ရေတွက်ရက်လ(၂၉)နှစ်ရသောအခါ ဝါဆိုလပြည့် ကျားမင်းနေ့တွင် ချမ်းမြေ့ရဂုံ တောရိပ်လှုံသည် စုံမြိုင်ပင်ရိပ်နန်း မှာကိုဝ့်

တောရပ် မြိုင်ပေါ် ခြောက်နှစ်ပျော်ခိုက် နှစ်ဖော်ပြမ္မဏာ တရားရရန် ချဉ်းကပ်ပြန်လည်း လောကီကိစ္စ ဖြစ်နေရမို့ ငါးပါးဝဂ္ဂီ စုံညီရှိသား သတိပွားရှဲ မိဂဒါဝုန် သားမျိုးစုံတို့ ဘေးမဲ့ပေးရာ တောဝနာတွင်း ချဉ်းနင်းဝင်ရောက် တရားပေါက်အောင် မထောက်မညှာ သည်ခန္ဓာအား နှိပ်စက်မပြီး ဒုက္ခစရိယတည်းဟူသော တရားကြီးကို စွန့်ခွာဖြစ်ထား အမှန်အားဖြင့် ဝင်လေအစထွက်လေအဆုံး



တမူထုံးနှင့် ယှဉ်ကြုံးသိမ်းဝင် သတိဝင်သား သဗ္ဗညုတ ဘုရားဖြစ်တိုင် လျှောက်လှမ်း နိုင်ခဲ့ပြီမို့ ခါတော်တဖုံ ပွင့်ချိန်ကြုံက ကဆုန်လပြည့် ဆင်မင်းနေဝယ်မြေ့ပရမေ ပလ္လင်ပွေထက် ရွှေညောင်တော်ကြီး ဘိဋ္ဌာဏ်ထီးနှင့် မငြီးကြည်ဖြူ ရန်မြူခပင်း အမှိုက်သင်းကို အရှင်းပါယ်ဖျောက် အလင်းပေါက်က ထွန်းတောက် ဘုန်းတော် သောင်းလုံးကျော်သည် သုံးဖော်လူတို့ ငြမ်းပါကိုင်။

ဘုရားဖြစ်ခါ ဒို့ဆရာသည် တွေ့ရှိတရား ဖြစ်စဉ်များကို ပိုင်းခြားထွေထွေ မဟောပေဟု စိတ်မှာရည်မှတ် ကြံစည်ရပ်တွင် သဟန္တမ္ပိ အမည်ရှိသား ဗြဟ္မာသား သည် မြန်စွာ လာရောက် ဦးနိမ်လျှောက်သည် တရားဒေသနာဟောပေးပါလို့ သနားညှာတာ ပြုပါလို့ ။

“ဤသို့ဖြစ်စဉ် ဉာဏ်ဆင်ခြင်၍ လမ်းတွင် တွေ့ကြုံ အစုံဗြဟ္မာဏာ တရားပြုရန် ရည်စိတ်သန်သော် ထိုသူမရှိ နတ္ထိဘာဝေ ဖြစ်နေချေကြောင့် ငါးပါး ဝဂ္ဂီဆုံအညီနဲ့ မဟီတစ်သောင်း တိုက်ပေါင်းမှ ခညောင်းကပ်လာ နတ်ဗြဟ္မာအား ဝါဆိုလပြည့် စနေနေ့တွင် ကြွေ့ကြွေ့လျှံတက် ဓမ္မစက်ကို မိန့်မြွက်တွေပြား ဟောဖော်ကြားသည် တရားနတ်စည် ရွှမ်းတယ်ကိုင်။

တရားနတ်စည် ဆော်ရွှမ်းသည်က သုံးမည်ဘုံသိုက်တစ်သောင်းတိုက်ဝယ် ကျွတ်ထိုက်သသူ နတ်လူဗြဟ္မာ သတ္တဝါကို ခေမာသောင်သို့ ဖောင်ကူးတို့ဖြင့် ဆောင် ပို့ပြီးခါ ဝါလေးဆယ်ငါး သက်ကားရှစ်ဆယ် ဆုံပြည့်ကြွယ်က - နယ်မလ္လတိုင်း စံနှိုင်းမယုတ် ကုသိနာရုံ အင်ကြင်းစုံ၌ ဥပတိဿမည်ရတွင်ခေါ် ရဟန်းတော်ကို နောက်ဆုံးတရားဟောဖော်ကြား၍ သက္ကရာဇ်ကား ရာလေးဆယ်ရှစ်ရောက်သည့် နှစ်ကြုံကဆုန်လပြည့် အင်္ဂါနေ့တွင် ချမ်းမြေ့နိဗ္ဗူစံတော်မူသည် ဟွန်းစူသောင်းလုံး ကျော်တယ်ကိုင်။

နိဗ္ဗူစံပြီး ရှမအိသား -သဂ်ီရွှေလျှော် အလောင်းတော်ကို ထိုယော်ကဆုန် လဆုပ်ကြံ၍ ဂဠုန်နေ့ဝယ် ခိုးငွေ့မနှော ဓာတ်တေဇောနှင့် ရှင်စောဉာဏ်ထက် တော် လျှောက်ထားချက်၌ ဟိုရှေးယခင်ဘဝတွင်က တွေ့ကြုံဆုံရ ပေါင်းဘဝတွင် သုံးပါးညီနောင် ရသေ့ဆောင်နှင့် ကတိစကားထားသည်များကို မှတ်သားအောင် မေ့တောင်းဆုကြွေးကျော် မီးပူဇော်သည် မွေတော်ရှစ်စိတ်ကြွင်းတယ်ကိုဝ်

ကြွင်းသည့် မွေတော် ရှစ်စိတ်ဖော်ကို ခွဲဝေပြီးမြောက် ဒိသမောက်သည့် ပါမောက္ခဆရာ စီစဉ်ရာ၌ အလုပ်အတွင်း မရိုးစင်းမှု သတိပြု၍ ဦးခေါင်းထိပ်တင် ခါးတွင် ပြုညှပ် ဆွယ်တော်ဓာတ်ကို သိကြားပြမ္မာ နတ်ဒေဝါနှင့် ရေမ္မနဂါး ဆောင်ယူ သွားသည် နှစ်ပါးဆွယ်တော် မရသော်တည့် ကျန်ဖော်မွေရ-ဓာတ်တော်လှုကို ဂန္ဓာသရာဇ်-တိုင်းဖြစ်ပြည်သား လူများကိုးကွယ် သီဟိုလ်နယ်၌ တစ်ဆူ ရထား သို့သော်ငြားလည်း ကာလပျက်ရှိန် ကြုံကြိုက်ချိန်ကား မင်းသွေးသားတို့ ရွှေပြောင်း သည်သွား သီရိလင်္ကာ အရပ်သာ၌ တည်တံ့ကိန်းဝတ် မချွတ်ဇောန် ဖြစ်ကြောင်းမှန်ခဲ့ ကျန်ရှိတွေ့တွေ့ များအမွေကို ညီတော်ဖြစ်ရ ထူးမြတ်လှသည် မွေဘဏ္ဍာ မြတ်သံဃာ နှင့် ပဋ္ဌမ သင်္ဃာတင်ခဲ့ရှာ သည့် မင်းမြတ်အဇာတသတ် စုပေါင်းအပ်၍ မပြတ် သာသနာ စိတ်မှာ ရည်စူးအကြံထူး နှင့် ပြုကြသည်မယ် ဘုရားတည်သည် မွေတော်ရသ စေတီတို့ "ချိန်ခါ (၅၀၀) ရောက်ခဲ့ရာတွင် ပြိုကျပျက်စီးစေတီးကြီးမှ ရသည့်မွေ တော်များစွာ ဖော်၍ သာသပြုမင်း အရှင်းဖြစ်က သီရိမ္မာ သောက မဟာရာဇာ သူဖြစ်လာ၍ ရှစ်သောင်းလေးထောင် အရဆောင်သား ဆွေတော်များ သို့ ရည်သန် စိတ်ကူး အထူးပြုပေ ဘုရား တည်လေသည် ကောင်းအမွေမို့ရစေဘို့-

ထိုသည် တည်ထား စေတီများဖြစ်စဉ် ထိုဖြစ်အင်ကို အမှန်ရှေး့ရှု သတိပြုပြီး ပြုလုပ်ကြရန် ခွင့်တောင်းပန်သည် သာသနာ့ရောင်ဝါလင်းစေဘို့ အစွန့်ရှည်ကြာ တည်စေဘို့

ဘာဝဗျူဟာ ဓမ္မတာနှင့် သာသနာအမွေနှစ် ရောက်ရစ်ဖြစ်သား အရပ်များတွင် တည်ထားစေတီ ရှိနှင့်ချေလည်း လွန်စွာမို့မောက် တောက်လျှောက်ဖြစ်သား လူအများတွင် ဒို့မြန်မာပြည်ဝယ် သန်းခြောက်ဆယ်ဟု ရေတွက်ခန့်မှန်း အရောက်လှမ်းသာ ဖြစ်ချိန်ခါဝယ် အမွေအနှစ် ဖော်ဖြစ်ထုတ်ပေး ရနိုင်ရေးဆောင် လူတို့ဘောင်၌

စေတီဘုရား တည်ကားထားသည် အများကောင်းဘို့ လမ်းပေမို့။

# " ဓာတ်ပုံမှတ်ချက် "

ဂင်္ဂါဝါဠုသဲစုမက ပွင့်တော်မူပြီးထကုန်သော ဘုရားအဆူဆူတို့သည် ရှေ့က ဖြစ်ခဲ့ဘူးသော ဘုရားရှင်ကိုယ်တော်မြတ်တို့၏ ကျန်ရစ်တည်ရှိနေသော အမွေအနှစ်များကို အလေးအမြတ်ပြု၍ အဆောင်သဖွယ်ကိုးကွယ်စည်းကပ်နိုင်စေခြင်း အကျိုးငှာ တည်ထားစေခိုင်းခဲ့သော ဗုဒ္ဓအမွေအနှစ်အဖြစ် တည်ဆောက်ပူဇော်အပ် သော ပူဇော်ရသော အရာတို့ကို ခေါ်သည်။

ဥပမာဆောင်သော်-ဂေါတမဗုဒ္ဓဘုရားရှင်သည် ကောဏ္ဍာဂုဏ်-ဂေါဏာဂုဏ် ကဿပတည်းဟူသော ဘုရားရှင်တို့၏အမွေတော်-တောင်ဝှေး ရေသနုတ်- သပိတ်တော်နှင့် မိမိ၏ ဆံတော်အား ပူးပေါင်း၍ ဘုရားဖြစ်စဉ်ဘဝ အဦးအစက ပင်လျှင် - ဒို့မြန်ခွင်၌ ရာဇာရတနသတ္တဟ ခေါ်တွင် လင်းလွန်းပင် ခြေရင်း၌ သီတင်းသုံးနေရင်း လောကတွင် ရဟန်းဟု ခေါ်တွင်ရအောင် ဓမ္မစကြာ တရားဦးပင် မဟောရသေးသောကာလ ချိန်ခါသမယ၌ ယခင်ကဖြစ်တည်ခဲ့ဘူးသော ရာမယဏ ဇာတ်တော်အရ သီတာဒေဝီအား ယူဆောင်၍ သွားခဲ့သော ဒဿဂီရိ အမည်ရှိသား ဘီလူးမင်းအားလျှင် မြားနှင့်ပစ်ခွင်း အပြတ်ပင်ရှင်းနိုင် ခဲ့သော သဂြိုလ်ပြည်ကြီး၏ ဗဟိုချက်မ သိင်္ဂုတ္တရတွင် အောင်မြေအစစ်ဖြစ်နေ၍ သိကြားကိုပြုစေ ဘုရားတည် လေသည် လွန်စွာထူးသည့်အောင်မြေမို့။

# "စေတီငါးမျိုး"



| | | |
|---|---|---|
| တစ်။ | ဓာတုစေတီ | -ဓာတ်တော်မွေတော်များအား မဌာပနာထား၍ တည်ထားအပ်သော ဗုဒ္ဓအမွေအနှစ် အဆောက်အဦ၊ |
| နှစ်။ | ဓမ္မစေတီ | -တရားစာပေများအား နှောင်းလူတို့ရစေခြင်း အကျိုးငှာ ကြေးပြား၊ ငွေပြား၊ ရွှေပြား တို့တွင် ရေးမှတ်တင်၍ ဌာပနာထားပြုလုပ်စီရင်အပ်သော ဗုဒ္ဓအမွေအနှစ် အဆောက်အဦး |
| သုံး။ | ဥဒ္ဒိဿစေတီ | -ဘုရားရှင်ကိုယ်တော်မြတ်၏ ရုပ်ပွား ကိုယ်စားဆင်းတုတော်များ၊ ဘုရားဖြစ်စဉ် နေထိုင်တော်မူသော သတ္တဌာန ရုပ်ပွားတော်များကို ဌာပနာပြု၍ စီရင်ထားသော ဗုဒ္ဓအမွေနှစ်အဆောက်အဦး |
| လေး။ | ပရိဘောဂစေတီ | -ဗုဒ္ဓဘုရားရှင်တို့၏ မူလအမွေအနှစ်များ (ဝါ)ဗုဒ္ဓဘုရားရှင်အား ရည်စူးလှူဒါန်းကြကုန်သော ရွှေငွေ၊ကျောက်သံ ရတနာများကို ဌာနပနာပြု၍ စီမံအပ်သော ဗုဒ္ဓအမွေနှစ်အဆောက်အဦ |
| ငါး။ | စေတီရသစေတီ | -ဘုရားရှင်အား အားကိုးအားထားပြု၍ ပူဇော်သော အားဖြင့် ပြုလုပ်စီမံကြသော သဲပုံစေတီ(ဝါ)ရဟန်းတော်ကြီးများ တရားအား ထုတ်ရင်း အမှတ်အသားပြုကြသော ကျောက်ပုံစေတီ သဲပုံစေတီများသည် ဗုဒ္ဓဘုရားကိုသာ တိုင်တည်ပြုလုပ် စီမံအားမှုကြောင့် ဗုဒ္ဓမွေနှစ် အဆောက်အဦဖြစ်ပါသည်။ |



ခြောက်။ ဒိဋ္ဌစူရေနုပရိကမ္မနစေတီ -အမှန်ပင် ဘုရားတည်ခြင်း ပြုလုပ်ရမည့် နေရာဟုသိခြင်း၊ ကာလ၊ ဌာန၊ ဖြစ်စဉ်များကိုသိခြင်း၊ ထိုသိခြင်းများဖြင့် အဓိဋ္ဌာန်ပြု၍ လှည့်လည် အလှူခံခြင်းမပြုပါလဲလျက် ဗုဒ္ဓအမွေနှစ်အား ဖော်ထုတ်တည်ထားပြုရသောအဆောက်အဦ

ခုနစ်။ လွှမ်းစေတီ -ဘုရားရှင်အား အောင့်မေ့တမ်းတ၍ ၎င်းတရားသဖြင့် တိုင်းတည်သစ္စာပြု၍ တပါးသူသိစေနိုင်ရန် ရည်စိတ်သန်၍ ဗုဒ္ဓဘုရားအားအားကိုး အားထား ပြုလုပ်စီမံတည်ထား အပ်သောဗုဒ္ဓအမွေနှစ်အဆောက်အဦ

ဟူ၍ အမျိုးအစားအားဖြင့် ခုနစ်မျိုးကွဲပြားတည်ရှိပါသည်။ စာပေဒ္ဓမူလေးဆူ ကိုသာတင်ပြမှတ်ထားသော်ငြားလည်း ပြင်ပ၌ အမှန်တကယ်တည်ထားခြင်းမှာ ခုနှစ် မျိုးဖြစ်တည်ပါကြောင်းသိစေအပ်ပါသည်။

## " လိုက်နာသိရှိအပ်သောအကြောင်းတရားများ "



❖ ဘုရားစေတီ တည်ထားကိုးကွယ် ပူဇော်ခြင်းသည် သံဃာအများမွေးထုတ်ရန် သိမ်ဆောက်ခြင်းမဟုတ်၊ သံဃာများနေရန် ကျောင်းဆောက်ခြင်းမဟုတ် လူနေရန် အိမ်ဆောက်ခြင်းမဟုတ်ပါ၊ ထင်ရှားသိသင့်သည်။

❖ ဤနေရာသည် ဘုရားတည်ရန် မြေနေရာဟုတ်/မဟုတ်သိရှိရန်လိုသည်။



- ❖ ဤနေရာ၌ဘုရားစေတီပေါ်ပေါက်ရန် အချိန်ဟုတ်/မဟုတ်သိရန်လိုသည်။
- ❖ ဤနေရာ၌ဘုရားစေတီ တည်ထားကိုးကွယ်ပူဇော်ပါက ဖြစ်ပေါ်လာနိုင်သောကောင်းကျိုး/ဆိုးကျိုးသိရန်လိုသည်။
- ❖ ဤနေရာ၌မည့်သည့်ပုံပန်းသဏ္ဍာန်အားဖြင့် တည်ထားကိုးကွယ်ပူဇော်အပ်သည်ကို သိရှိရန်လိုပါသည်။
- ❖ မည်သို့ သော ပုဂ္ဂိုလ်သည် ဘုရားစေတီတည်ထားပူဇော်ရန် သင့်/မသင့်သိရှိရန်လိုသည်။
- ❖ ဤနေရာ၌ ဘုရားတည်ရခြင်း၊ မတည်ရခြင်းတည်းဟူသော ဖြစ်စဉ်အားသိရှိရန်လိုသည်။
- ❖ ဘုရားတည်ထားကိုးကွယ်ပူဇော်နိုင်ရန် အသိပညာများအတတ်ပညာများရှိထားရန်လိုသည်။
- ❖ ဘုရားတည်ထားပူဇော်ရာ၌ ပြုသင့်ကိစ္စအဝဝကို  ကုန်စင်စွာ တတ်မြောက် သိရှိထားရန်လိုသည်။
- ❖ ဘုရားတည်ရင်း ရပ်ထားခြင်း အမှုမပြုရသည်ကို သတိပြုပါ။
- ❖ တည်ပြီးဘုရား မလိုပြောင်းရွှေ့ ဖျက်ဆီးသည့် အလေ့စရိုက်မပြုထိုက်ပါ။
- ❖ ဘုရားတည်လျှင် ဉာဏ်ဆင်ခြင်၍ လိုလျှင်ခွင့်ပြု ပေးသင့်၏ဟု ရှေးကဆရာမိန့်မှာစကား အရှိများကို သင်ကားအမှန်တတ်ကောင်းမှန်၏။



## " ဘုရားစေတီတည်ထားကိုးကွယ်ပူဇော်ကြသူများ "



၁။ တိုင်းပြည်အုပ်ချုပ်မင်းလုပ်ကြသူများ

၂။ ပါရမီစခန်းထွက်ရပ်လမ်းဖြင့် ဆုကြီးပန်များ

၃။ ပါရမီဖြည့်မှီ၍ ရဟန်းကိစ္စပြီးပြတ်ကြသူများ

၄။ ပါရမီဓာတ်ခံပါလာသော ပုဂ္ဂိုလ်များ

၅။ အများစုပေါင်း၍ သဒ္ဓါကြည်ဖြူစွာအားကိုးအားထားပြု၍ တည်ထား ကိုးကွယ်ပူဇော်သူများ-ဟူ၍ အမျိုးအစားကွဲပြားဖြစ်တည်ကြပါသည်။

## " ပူဇော်ကြခြင်းအကြောင်းအရင်း "
## " တိုင်းပြည်အုပ်ချုပ်မင်းလုပ်သူများဘုရားတည်ခြင်း"



မိမိကွပ်ကဲအုပ်ချုပ်၍ တိုးတတ်ထွန်းကားအောင် ဆောင်ရွက်ပေးရသော ပုဂ္ဂိုလ် သတ္တဝါများကို တော်တည့်မှန်ကန်သော အားကိုး ယုံကြည်မှု ဖြစ်စေခြင်း အားဖြင့်လည်းကောင်း၊ ထိုသို့အားကိုးမှုအစဉ်ဖြင့် လူကျင့်ဝတ် ယဉ်ကျေးမှုတို့ကို ထိန်းသိမ်း စောင့်ရှောက်နိုင်ကြစေခြင်းအကျိုးငှာလည်းကောင်း၊ လောကတွင် ထင်ရှားရှိသားမြတ်ဘုရားအား ရှိသေညွှတ်တွားသော အားဖြင့်လည်းကောင်း၊ သဒ္ဓါကြည်ဖြူ ပါရမီအယူအားဖြင့် တော်တည့်မှန်ကန်သော ဗုဒ္ဓအမွေအနှစ်အား ဖြစ်လေရာဘဝတိုင်းတွင် မမေ့မလျော့ မပေါ်မဆ ပါရှိစေရန် အတွက်လည်းကောင်း၊ မင်းရာဇာများ ဘုရားတည်ကြပါသည်။



## “ ပါရမီစခန်းတွက်ရပ်လမ်းနှင့်ဆုကြီးပန်များဘုရားတည်ခြင်း”



ဆုကြီးပန်သံဃာတော်ကြီးများ
ဆုကြီးပန်ရသေ့ရဟန်းများ
ဆုကြီးပန် လူပုဂ္ဂိုလ်များ
} ဘုရားဆုကြီးပန်ကြသူများ

ဆုထူးပန်ရဟန်းသံဃာတော်များ
ဆုထူးပန်ရသေ့ရဟန်းများ
ဆုထူးပန် လူပုဂ္ဂိုလ်များ
} ရဟန္တာဆုထူးပန်ကြသူများ

အပြီးလွပ်မြောက်မှုကိုသိသောရဟန်းသံဃာတော်ကြီးများ
အပြီးလွပ်မြောက်မှုကိုသိသောရသေ့ကြီးများ
အပြီးလွပ်မြောက်မှုကို သိသော လူပုဂ္ဂိုလ်များ
} အပြီးအပြတ်ချုပ်ငြိမ်းခြင်းကို တာဆူ၍ဆုတောင်းကြသူများ

ဟူ၍ အမျိုးအစားကွဲပြားတည်ရှိကြ၍ လွပ်မြောက်ရာ လွပ်မြောက်ကြောင်း လမ်းကြောင်းတွင် အမိဌာန်သက်သေပြုကြသော သဘော သာသနာတော်သို့ ခိုလှုံဝင်ရောက်လာကြပြီးလျှင် အမှန်လွပ်မြောက်ခြင်းတရားကို ရှာဖွေရယူကြ၍ လွပ်မြောက်စေလိုမှုကို ရှေ့ရှု၍လည်းကောင်း(ပါရမီ)ခေါ် အထောက်အပံ့ဖြစ်စေသော အားတစ်ရပ်အနေဖြင့် ဖြည့်ကျင့်ပူဇော်သောအားဖြင့် ဘုရားစေတီများ တည်ထားကိုးကွယ်ပူဇော်ပေးခဲ့ကြပါသည်။



## "ပါရမီခေတ် အစံပါလာသော ပုဂ္ဂိုလ်များဘွားရားတည်ခြင်း"

ပါရမီ - ဖြည့်ကျင့်ခဲ့ဘူးသော (ဝါ)ကောင်းမှု မကောင်းမှုနှင့် ယှဉ်၍ ပြုလုပ်ခဲ့ဘူးသော ခိုင်မာသောအကြောင်းတရား လူ့လောကအတွင်း ချဉ်းနင်းဝင် ရောက်ဖြစ်တည်ကြသော ပုဂ္ဂိုလ်သတ္တဝါများတွင် အဟောင်းမှ အသစ်သို့ ကူးပြောင်းရောက်လာကြသူများ သာဖြစ်ပါကြောင်း ပဌမ သိနေအပ်ပါသည်။

### " အမျိုးအစားများတွင် "

လူ့ဘဝမှ သေဆုံး၍ လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

နတ်သက်ချွေ၍ - လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

ဗြဟ္မာသက်ချွေ၍ - လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

တိရစ္ဆာန်သေ၍ - လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

ငရဲမှလွပ်၍ - လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

သံသေဇမှ - လူပြန်ဖြစ်လာသော ပုဂ္ဂိုလ်

ဟူ၍ လူ့လောကၚ် ပေါင်းဆုံရောက်ရှိနေထိုင်ကြသူများဖြစ်ပါသည်။ မိမိပြုသော ပြုခဲ့ဘူးသော ကုသိုလ်၊ အကုသိုလ် များ၏ အားကြီးစွာ အားနည်းစွာ ပြုလုပ်ဆောင်ရွက်မှုများကို အခြေခံ၍ ဖြစ်တည်လာမှုများကို ပါရမီဟုခေါ်ပါသည်။

ထိုပါရမီနှင့် လူပြန်ဖြစ်တည်နေကြရသော ပုဂ္ဂိုလ်တို့တွင် ပြုခဲ့ဘူးသော အကြောင်းတရားမှ အချိန်ကျသော် နှိုးစွသတိပေးတတ်ပါသည်။ သို့အတွက် အတိတ်

နမိတ်-တဘောင်-စနည်းဟူ၍ ဖြစ်တည်ရှိပါသည်။ ထိုအတိတ်-နမိတ်-တဘောင် - စနည်းတွင်လည်း အတိတ်-ပစ္စုပ္ပန်-အနာဂါတ်-ဟူ၍ ခွဲခြားဖြစ်တည်နေမှုကြောင့် တွေ့ရှိလာမှု(ဝါ)သိလာမှုတို့အား ထိုပေတံများနှင့် တိုင်းတာကြည့်ရှုအပ်သေသည်။

ဤသို့ လှုံ့ဆော်နည်းများဖြင့် ဘဝဟောင်းကပြုခဲ့ဘူးသော အကြောင်း အထောက်ပံ့အရ ဘုရားတည်ကြခြင်းကို ပါရမီခာတ်အခံပါလာသော ပုဂ္ဂိုလ်တို့ ဘုရားတည်ခြင်းဟုခေါ်ဆိုသမုဒ်ကြရပါသည်။(ပါရမီဟူသည်) တစိုက်မှတ်မှတ် လုပ်ယူအပ်သောအကြောင်းခြင်းရာပေတည်း။

## " အများစုပေါင်း၍ ဘုရားတည်ကြခြင်း "

ဒေသ၊ ဌာန၊ အလျှောက်-လိုအပ်နေမှုကို ဝိုင်းဝန်းဖြည့်စည်းခြင်းအဖြစ်ဖြင့် ၎င်း ရရှိခံစားလာရသော အောင်မြင်မှုတွင် ဘုရားရှင်၏ စောင့်ရှောက်မှုကြောင့် အန္တရာယ်ကင်းစွာ ပြုမှုအောင်မြင်ခဲ့ကြရသည်ဟု အများညီညွတ် ဆုံးဖြတ်မိကြမှု အရလည်းကောင်း၊ အများစုပေါင်း၍ ဘုရားတည်ကြခြင်းကို ပြုလုပ်ကြပါသည်။

<u>သိအပ်သောအကြောင်းတရားများ</u>

**" ဘုရားတည်သူများသည် စေတီ၏ ဖြစ်တည်ပုံ ရသဂုဏ်**
**ကိုမသိပါဘဲမပြုလုပ် သင့်ပါ ရေလာစည်းပူးအပ်ပါသည်။"**

- တည်ထားကိုးကွယ်ပူဇော်မည့် စေတီတော်၏ အရွယ်အစား ပမာဏကို ကောင်းစွာသိရပါမည်။
- ထိုပမာဏတွင် မည်သို့ခိုင်ခန့်အောင် ပြုလုပ်ဆောင်ရွက်မည် ကိုသိရပါမည်။
- ထိုပမာဏအရ မည်သည့်နေ့တွင် ပြုလုပ်ရမည်ကို သိရပါမည်။
- စေတီတော်၏ ဖွဲ့စည်းဖြစ်တည်ပုံနှင့် ရသဂုဏ်ညွှန်းမှုများကို သိရပါမည်။
- မည်သို့မည်ပုံ ပြုအပ်ကြောင်း အသေးစိတ်သိရှိနားလည်ထားရန် လိုအပ်ပါသည်။

စေတီတည်တော်၏ ညွှန်း၊ပြသော ရထာဂုဏ်များ




"ဦးဆောင်ရွှေထု ကိုယ်တိုင်ရေးသားပြုသည်"

(၁) အောက်ခြေဖိနပ်တော်

သင်သည် ဗုဒ္ဓဘုရားရှင်အား တွေ့၍တရားနာလိုဇော အဟုန်ဖြင့် ချီတက်လာခဲ့ရာ ဘုရားရှင်၏ ခြေတော်ရင်းသို့ ဝပ်ဆင်းခရ ရောက်ပါ၏ ဟူ၏-

(၂) ပန်းတင်ခုံ

ရောက်ရှိလာသော သင်သည် ဗုဒ္ဓဘုရားရှင်အား ပါရှိလာသော သဒ္ဓါအမှုရှိသော လှူဘွယ်ဝတ္ထုအစုစုကို တင်ထားပူဇော်ရန် ဖြစ်သည်။

(၃) ပဌမပစ္စယ

ရှေးဦးစွာ သင်အားကြိုဆို နုတ်ဆက်စကားဆိုခြင်း တရားဟောခြင်း တရားနာယူမှတ်သားထိတွေ့ခြင်း အဆင့်ဖြစ်ပါသည်။

(၄) ဒုတိယပစ္စယ

သင်သည် တရားနာယူပြီး နာနေစဉ်အတွင်း ဤကားမကောင်းမှုဟုတ်၏ စွန့်ဖြစ်ရပေမည်။ ဤကားကောင်းမှုဟုတ်၏ ဆောင်ထားရပေမည်ဟု ဆင်ခြင်သုံးသပ် ထပ်ချပ်မကွာ လိုက်နာဆောင်ရွက်ရန် ဆုံးဖြတ်ခြင်းအဆင့်ဖြစ်၏

(၅) တတိယပစ္စယ

သင်သည် မကောင်းမှုတို့ကို စိစစ်စွန့်ခွာ၍ ကောင်းမှုအလီလီကို ဆောင်ပြီးလျှင် အမြဲမပြတ် သတိကပ်အောင် ဆောင်ရွက်နေသော အဆင့်ဖြစ်ပါ၏

(၆) ရှစ်ဒေါင့်ပလ္လင်

ထိုသို့လေ့ကျင့်ဆောင်ရွက်နေကြောင်း သတင်းကောင်းကို ဆွေမျိုးညာတိရပ်ဝေး/ရပ်နီး ကြားသောကြောင့် လာရောက်စုပေါင်း လိုက်နာလုပ်ဆောင်ကြသောအဆင့်ဖြစ်၏ ။

(၇) ကြာပွင့်

သင်သည် လောကအလည်သို့ ရောက်ရှိလာစဉ်မှ ယခုတရားသိသော ဘုရားရှင်နှင့်တွေ့ရသည့်အခါ တရားသွန်သင်ဆုံးမစဉ်၌ နာယူမှတ်သား လိုက်ပါ လုပ်ဆောင်မှု တရားတို့နှင့် မကောင်းမှုပါယ် ကောင်းမှုဆောင်ကွယ်အပြစ်အမြဲမပြတ် သတိကပ်၍ ဆောင်ရွက်လာသောကြောင့် ထူးခြားစွာသော ဉာဏ်စဉ်တို့ ပွင့်လင်း လာပြီး အမှန်ကိုအမှန်တိုင်း ရှုမြင်သုံးသပ်တတ်သောအဆင့်ဖြစ်၏။

(၈) ခေါင်းလောင်း

သင်သည် ခေါင်းလောင်းသံသာ ကြားရဘိသကဲ့သို့ သင်၏တော်တည့်မှန် ကန်စွာ ရရှိနေသော တရားသံဝေဂပွားများနေမှုကို နတ်လူအများ သာဓုခေါ်ကြ၍ ဝမ်းပါတသာ ပြုကြသော အသံကြားရသောအဆင့်။

(၉) ခါးစည်းဖောင်းလုံး

သို့ဖြစ်သော် ခါးစည်းဖေါင်း၏ ကြပ်မတ်ခြင်း၊ ပန်းတို့၏ လှပတင့်တယ် စေခြင်းမှာ သင်သည် ရရှိသောတရားတော်အားကြပ်မတ်သတိချပ်၍ တင့်တယ် သည်ထက် တင့်တယ်အောင် လေ့ကျင့်စွမ်းဆောင်နေရသောအဆင့်။

(၁၀) သပိတ်မှောက်

ထိုသို့သင်၌ တရားတင့်တယ်ခြင်း၊ အနေ၊ အပြောတင့်တယ်ခြင်း စုံညီလာ သောကြောင့် လာရောက်လှူဒါန်းကြသည်တို့ကို အလှူခံ၍ သုံးဆောင်နိုင်ပြီး ဖြစ်သော အဆင့်ဖြစ်ပါသည်။ သပိတ်ခြေပန်းကဲ့သို့ အနေအပြောတင့်တယ်ခြင်းကို လည်းရအောင် ဆောင်ရမည့် အဆင့်ဖြစ်ပါသည်။

(၁၁) ဖောင်းလုံး

သင်သည် ဘုရားရှင်နှင့် ထိတွေ့လာရာမှ တရားတော်ကို အစဉ်အတိုင်း လေ့ကျင့်ပြုစု လုပ်ကိုင်လာသောကြောင့် တရားသဖြင့် သိတတ်၊ နားလည်၊ ဟောပြော ပေးနိုင်စွမ်းသော ပညာရှင် ဖောင်းဝတ်ပုဂ္ဂိုလ် အဆင့်ဖြစ်သော အဆင့်ဖြစ်ပါကြောင်း။

(၁၂) ကြာမှောက်

သင်သည် ဤသို့နားလည်တတ်မြောက်အောင် ကြိုးစားလိုက်နာခြင်း၊ လေ့ကျင့်ခြင်း၊ ရသောသိသော တရားသဖြင့် သောကြောင့် ခြင်းရာတို့အား မျှဝေ ဟောပြောခြင်းတို့ကြောင့် လောကတွင် မမြဲခြင်းမှသည် ချုပ်ငြိမ်းခြင်းလောကသစ္စာ အမှန်တရားကို အောက်မဂ်ဟုခေါ်သော မဂ်တရားကို တွေ့ရှိခံစားလာရသော အဆင့်ဖြစ်သည်။

(၁၃) ခရေသီး

ဤသို့ မဂ်ဆိုက်၍(ဝါ)အကြောင်းအကျိုးဟူသမျှကို ဥပါတ်၊ ဋ္ဌီ၊ ကင်၊ နီရောဓ၊ ဖြစ်၊တည်၊ ပျက်၊ ချုပ်တည်းဟူသော မဂ်တရားမှန်ကို ရလာသောကြောင့် နာကြားလိုသော သိလိုသော ပုဂ္ဂိုလ် သတ္တဝါတို့ လာရောက်နာကြားကြသလို သင်သည်လည်း အပါယ်ပရိသန္တေမှလွတ်၍ လွပ်မြောက်မှုလမ်းစ အမှန်ပေါ် သို့ ရောက်နေသောအဆင့်။

(၁၄) ကြာလံ

သင်သည် မဂ်မှတဆင့် အထက်မဂ်ဟုဆိုအပ်သော ဖိုလ်-ဝင်စားနိုင်ခြင်း အဆင့်သို့ တိုင်ရောက်ပြီဖြစ်သောအဆင့်။

(၁၅) ငှက်ပျောဖူး

သင်သည် သံသရာမှ လွပ်မြောက်မှု အမှန်မြတ်နိဗ္ဗာန်သို့ ဧကန်ထုတ်ခြောက် မျက်မှောက်ပြုနိုင်သူဖြစ်ပါတော့သည် သို့အတွက် မကိဋ်တော် ဟုဆိုအပ်သော ထီးတော်ဆောင်းရန် အဆင်သင့် ဖြစ်နေသောအဆင့်။

ဤသို့အားဖြင့် သူအဆင့် သူနေရာ သူအလုပ်ဖြင့် ဘုရားစေတီများ တည်ဆောက် ပူဇော်ခြင်းနှင့်တကွ ပိဋကတ်တော်၏ လမ်းညွှန်မှုအတိုင်း တိုက်ရိုက်ညွှန်ကြားမှုကိုပြသော နိဗ္ဗာန်ခရီး အဆင့်ဆင့်ကို ပြသခြင်းတည်းဟူသော လွပ်မြောက် ရန်လမ်းကြောင်းပြသော သာသနာလမ်းပြ အဆောက်အဦဖြစ်ကြောင်း နားလည် အပ်ပေသည်။

## " ပုံသဏ္ဍာန်ကွဲပြားခြားနားခြင်း "



ထိုသို့ နိဗ္ဗာန်သို့တိုင် လမ်းကြောင်းပြ အဖြစ်တည်ထားကိုးကွယ်ပူ ဇော်ကြရသော ဘုရားစေတီများတွင် သဏ္ဍာန်အားဖြင့် သုံးမျိုးရှိပြန်ပါသည်။

(၁) မြေပေါက်စေတီတော်

(၂) ထူပါရုံစေတီ

(၃) ပုထိုးတော်စေတီ

ဟူ၍ဖြစ်ကြပါသည်။




ထူပါရုံစေတီ–ကျောင်းဆောင်စံ၍ပုံဇော်ပုံ

## (၁)မြေပေါက်စေတီ

မြေပေါက်စေတီဟူသည်ကား ပုံတွင်ပြခဲ့ပြီး ဖြစ်သည့်အတိုင်း ဖိနပ်တော်မှသည် ငှက်ပျောဖူးတိုင် ပစ္စယ များနှင့် တကွတည်ထားပူဇော်အပ်သော စေတီများဖြစ်ပါသည်။ ရွှေတြိဂုံ၊ ရွှေမော်ဓော စသဖြင့်

## (၂) ထူပါရုံစေတီ

ထူပါရုံစေတီဟူသည်မှာ ထိုမြေပေါက်စေတီ အားအတွင်းလှိုင်ဖွဲ့၍ မုဒ်များ (ဝါ)ဝင်ပေါက်များထည့်၍ အတွင်း၌ ပူဇော်ကြည်ညိုစရာ ရုပ်ပွားများဖြင့် တည်ထားကိုးကွယ်ခြင်းစေတီ၊ တဖန်အောက်ခြေ၌ ပန်းတင်ခုံ တက်လမ်းများဖြင့် ကျောင်းဆောင်ကို အောက်ကခံပြီးလျှင် မုဒ်ပေါက်များ(ဝါ)ဝင်ပေါက်များဖြင့် အပေါ်တွင် စေတီပေါက်စေပြီး တည်ထားကိုးကွယ်ပူဇော်ထားသော စေတီများကို ထူပါရုံစေတီများပါဟု ခေါ်သည်။ နေရာအနေအထားအရ ကြီးခြင်း၊ ငယ်ခြင်းသာကွာခြားပါသည်။ "ဆွမ်းဦးပုညရှင်တို့ကဲ့သို့သာ"

## (၃) ပုထိုးတော်စေတီ

လုံးဝန်းသော(ဝါ)ထုထည်ပမာဏ ကြီးမားစွာသော မြေပေါက် စေတီ ထူပါရုံစေတီတို့၏ အင်္ဂါများကိုပါ ပေါင်းစပ်ရောယှက်၍ တည်ထားအပ်သော စေတီတော်ကြီးများဖြစ်သည်။ စစ်ကိုင်းကောင်းမှုတော်-မင်းကွန်းပုထိုးတော် မဟာမြတ်မုနိစသဖြင့်သော စေတီတော်များဖြစ်သည်။

# " ပုဂ္ဂိုလ်တိုင်းစေတီတည်ရန် သင့်/မသင့် "

ရဟန်းဖြစ်စေ၊ ရသေ့ဖြစ်စေ၊ လူဖြစ်စေ၊ မင်းဖြစ်စေ စေတီများအား အရမ်းကာရော တည်ထားမှု ဆောင်ရွက်မှု မပြုသင့်ပါ။ ကောင်းမှုပြုတိုင်း ခံစားခွင့်ရှိပါမှ ခံစားရတတ်ပါသည်။

- မတည်အပ်သော ရဟန်းဘုရားတည်သော် တရားမရသည့် အပြင် လျှင်စွာ ပြန်လွန်တော်မူနိုင်ပါသည်။
- မတည်အပ်သော ရသေ့ဘုရားတည်သော် အုန္နဇော်သောင်းနင်းကြားကောင်းခြင်း မရှိသော သတင်းဆိုး၊ မပြီးမြောက်ခြင်း အကြောင်းတရား များဖြင့် လျှင်စွာအသက်ဆုံးရှုံးတတ်ပါသည်။
- မတည်အပ်သော မင်းရာဇ-ဘုရားတည်သော်-တိုင်းပြည်မငြိမ်မသက်ဖြစ်၍ သွေးချောင်းစီးခြင်း၊ သက်တိုခြင်း၊ မင်းဖြစ်မှ လျော့ကျခြင်းများဖြစ်တတ်ပါသည်။
- မတည်အပ်သော လူပုဂ္ဂိုလ်များ ဘုရားတည်သော် စီးပွားဥစ္စာပျက်စီးခြင်း-လျှင်စွာသေဆုံးခြင်း များဖြစ်တတ်ပါသည်။

ကောင်းမှုလုပ်လျှင် ကောင်းတာဖြစ်သည်ဟု လွယ်လွယ်ပြောဆို ရေးသားကြသော်လည်း ထူးခြားသော ထက်မြက်သော မြင့်မြတ်သော တော်ဝင်သော အကြောင်းတရားများကို စီမံပြုလုပ်ကြရာ၌ သိအား၊ ဖိအားများ မဖြစ်ပေါ်ရအောင် သတိဆောင်၍ စိစစ်ပြုလုပ်ပူဇော်အပ်ပေသည်။

## " ဘုရားစေတီမတည်သင့်သော ပုဂ္ဂိုလ်များ "



ဘုရားတည်မည့်သူသည် လူလောကသို့ ရောက်ရှိလာစဉ်က ဖြစ်ပေါ်စေခဲ့သော ပေါင်းစပ်ဖြစ်တည်မှု မဟာဘူတ ခေါ် မဟာမုဒ်အား စိစစ်ချသင့်ပါသည်။ သို့စိစစ်ရာတွင် ပုတိ၊ ဘင်္ဂ၊ မရဏ၊ အိမ်များ၌ ကြာသပတေး ဂဏန်းစဉ် ကိန်းစပ်နေသူများဘုရားတည်ရန် မသင့်ပါကြောင်းသိစေအပ်ပါသည်။

တဖန် ဘူတ၊ ဘုတ်ခေါ် ရောက်ရှိနေသော အသက်နှင့် တိုက်ဆိုင်စစ်ဆေးသည့်အခါ အထက်ပါဖြစ်စဉ်အတိုင်း ပုတိ၊ ဘင်္ဂ၊ မရဏ၌ ကြာသပတေးကိန်းစပ်၍ ပေးနေပါလျှင် ထိုသူဘုရားတည်ခြင်းကို သိစေအပ်ပါသည်။

- ရဟန်း၊ရသေ့ဖြစ်သော် လျှင်စွာပြန်လွန်တော်မူတတ်ခြင်း။
- မင်းဖြစ်သော်-အရာလျော့ကျခြင်း၊ လျှင်စွာသေဆုံးခြင်း။
- လူဖြစ်သော် စီးပွားဥစ္စာလျှင်စွာ ပျက်စီးသေခြင်းကြီးပင်လျှင် ဖြစ်တတ်သောကြောင့်တည်း။

## " ဘုရားစေတီများတွင် ဖြစ်တည်နေသော အင်္ဂါလုံးရပ်အားခွဲခြားခြင်း "

| | | |
|---|---|---|
| ၁။ | မာန်ဘုရားစေတီ | -(တုပ်ခိုင်ခြင်းလုံးဝန်းခြင်း) |
| ၂။ | ထည်ဘုရားစေတီ | -(အချိုးကျနခြင်း-သေသပ်ခြင်း) |
| ၃။ | နွဲ့ပုံဘုရား | -(ပေါင်းရစ်များစွာဖြင့် တည်ထားကိုးကွယ်မှုပြုကြသောကုန်းဘောင်ခေတ်စေတီများ) |

ဟူ၍ ဘဏ္ဍာန်တော်အား ခေါ်တွင် သမုဒ်ခြင်း သုံးမျိုးကွဲပြားပါသည်။



## “ ရှပ်ပွားတော်များ(ဝါ)ဆင်းတုတော်များတည်ထားပူဇော်ခြင်း ”

ရုပ်ပွားတော်များ ထုစစ်၊ သွန်းလောင်းပူဇော်မှုအမျိုးမျိုးပြုကြပါသည်။

<u>သွန်းလောင်းရုပ်ပွားတော်များ</u>

၁။ ပဉ္စလောဟာရုပ်ပွားဆင်းတုပြုလုပ်ပူဇော်ခြင်း

၂။ ကြေးဆင်းထုရုပ်ပွားသွန်းလောင်းပူဇော်ခြင်း

၃။ ငွေ ဆင်းထုရုပ်ပွားသွန်းလောင်းပူဇော်ခြင်း

၄။ ရွှေဆင်းရုပ်ပွား သွန်းလောင်း ပူဇော်ခြင်း

၅။ ပြဒါး ဆင်းထုရုပ်ပွား သွန်းလောင်း ပူဇော်ခြင်း

၆။ ဓာတ်သား ဆင်းထုရုပ်ပွား သွန်းလောင်းပူဇော်ခြင်း

၇။ ပန်းပေါင်း ဂမုန်းပေါင်းဆင်းထု ရုပ်ပွား သွန်းလောင်း ပူဇော်ခြင်းဟူ၍ အမျိုးအစားကွဲပြားခြားနားပါသည်။

<u>ရုပ်ပွားဆင်းထု ထုစစ်ပူဇော်ခြင်း</u>

၁။ စိန်သား အား ထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

၂။ ပတ္တမြားအားထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

၃။ နီလာ အားထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

၄။ ကျောက်စိမ်း အားထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

၅။ သစ်သား အားထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

၆။ အင်္ဂဒေအားထုစစ်ပူဇော်သော ရုပ်ပွားဆင်းတုတော်

ဟူ၍လည်း ကွဲပြားခြားနား ပြုလုပ်ပူဇော်ကြပါသည်။

'သဏ္ဍာန်တော်များ'

'ထိုသို့ ထုစစ်, သွန်းလောင်း ပူဇော်မှု သဏ္ဍာန်များတွင် အမျိုးအစားများ ရှိပါသည်'

၁။ ရုပ်တော်မူ ပုံတော်များ

၂။ လျှောင်းတော်မူ ပုံတော်များ

၃။ ထိုင်တော်မူ ပုံတော်များ

၄။ ပရိနိဗ္ဗာန်ပြုမူ ပုံတော်ဟူ၍လည်း ပုံသဏ္ဍာန်ကွဲပြားပူဇော်မှုများ ရှိပါသည်။

'ဆန္ဒ ဝရ ပူဇာတိ ဗုဒ္ဓရူပံ, ကမ္မ ဝိသုဒ္ဓိ ပေစ္စယာ'

မိမိသဘော ဆန္ဒရှိရာ ဘုရားရှင်၏ ပုံပန်းသဏ္ဍာန်တော်အား သန့်ရှင်းစင်ကြယ်စွာ ထုစစ်သွန်းလောင်းပူဇော်နိုင်ကြပါသည်။ ထိုသို့ပူဇော်ကြရာ၌ သက်ဝင်လှုပ်ရှားသော ရုပ်ပွားတော်များ ဖြစ်ခြင်း၊ မဖြစ်ခြင်းတည်းဟူသော ထူးခြားဖြစ်စဉ်တော်များလည်းရှိပါသည်။

'ရပ်တော်မူ ပုံသဏ္ဍာန်များ'

၁။ ဗျာဒိတ်မုဒြာ - ဟု ခေါ်ဆိုသော ဗျာဒိတ်စကား ပြောကြားနေပုံ ဖြစ်ပါသည်။

၂။ ၃၂ ကောဋ္ဌာသယောက်ျားမြတ်တို့၏ အင်္ဂါအား ထင်ရှားပြသပုံ
(မဟာပြမ္မဇာလက္ခဏာ - ပုဏ္ဏားအား အထူးပြသော ပုံဖြစ်ပါသည်)

၃။ ဒေသစာရီကြွချီစဉ် - ထူးခြားမိန့်များ စကားပြုပုံ

၄။ တန်ခိုးပြာရိယပြပုံ တို့ဖြစ်ကြပါသည်။

'ကျောင်းတော်မှုများ'

၁။ စိန်သာကျောင်း ၂။ မြသာကျောင်း ၃။ ပတ္တမြားသာကျောင်း

၄။ ရွှေသာကျောင်း ဟူ၍ ကျောင်းတော်မှု (၄)ဆူ လေးမျိုးရှိရာတွင် - ပတ္တမြားသာကျောင်းဟု ခေါ်အပ်သော ဗုဒ္ဓဝင်စစ်ဘုရားဖြစ်တော်မူသော ဘုရားရှင် အနန္ဒာ သာရိပုတ္တရာ ရှင်မောဂ္ဂလာန် နှင့် ရဟန်းတော်ကြီး များအား အထူးတရားဟော ဟန်ဖြစ်ပါသည်။

'ထိုင်တော်မူ ရုပ်ပွါးများ'

၁။ ဘူမိဖဿမုဒြာ - မြေအားသက်သေအရာထား၍ ထိုင်တော်မူဟန် ယာလက်သည် မြေနှင့် တိုက်ရိုက်ထိစပ် သည့်သဘော ပလ္လင်တော်တွင် တိုက်ရိုက်ထိကပ်နေသည့် ပုံသဏ္ဍာန်တော်

၂။ သဗ္ဗဇေယျသိဒ္ဓိမုဒြာ - လူနတ်ပြမ္မာသတ္တဝါအားလုံး စုရုံးရောက်ရှိချိန် တရားဟောတော်မူဟန်

၃။ နဂါးရုံလာဘသိဒ္ဓိမုဒြာ - နဂါးမင်း စောင့်ရှောက်ပူဇော်မှု ပြုနေသော ကာလ သိဒ္ဓိမုဒြာဟန်

၄။ လာဘသိဒ္ဓိမုဒြာ - ရိုးရိုးထိုင်ခြင်းတွင် ယာလက်တော်လှန်၍ ရတနာများ ပေးဝေခြင်း၊ ဝဲလက်တော် အပိုက်၌ ရတနာအိုးကို ပင့်ကိုင်ထားခြင်းဟန်

၅။ ရာဇသိဒ္ဓိမုဒြာ - မင်းများ မင်းမြောက်တန်ဆာ ငါးပါးဝတ်ဆင်ထားဟန်

၆။ ဒေဝပူဇသိဒ္ဓိမုဒြာ - ရာဇာဓိရာဇ ပုံဟန် - ဥပမာ (မဟာမြတ်မုနိ)

၇။ အဘယလာဘသိဒ္ဓိမုဒြာ - ဘေးရန်ကင်းကွာစေကြောင်း တရားတော်ကို ဟောကြားပေးဟန်

(က) သမရိုးကျထိုင်ရင်းမှ ယာလက်တော်ရှေ့ထုတ်၍ မြှောက်ထားဟန်

(ခ ) ခြေစုံချထိုင်၍ ယာလက်တော် မြှောက်ပြီး တရားဟောသောဟန် စသဖြင့်သော မုဒြာ (ဝါ)ပုံသဏ္ဌာန်တော်များကို - ကြည်ညိုဖွယ်ရာ ထုစစ် သွန်းလောင်းပူဇော်ကြပါသည်။

သို့ပူဇော်ရာတွင်လည်း ထိုင်ပုံတော်များတွင် လူမျိုး၊ ဒေသကွဲပြားမှုများကြောင့်လည်းကောင်း၊ သဒ္ဓါယုံကြည်မှုအား ကောင်းခြင်းဖြင့် ပူဇော်အားကိုးသမှုပြုခြင်း ကြောင့်လည်းကောင်း၊ ထိုထိုင်နေသတင်းသုံးသော ပုံတော်များတွင် ကြက်ပိုက်၊ ကြက်စာကြွေး၊ ကြက်ရေတိုက်၊ ဆင်စီး၊ ဆင်းစီးမြင်းရံ စသဖြင့်သော အကြောင်းတရား အထူးပြုလုပ်ပူဇော်ချက်ကြောင့် အထူးအကျိုးထူးကို ရယူပိုင်ဆိုင်နိုင်ရန်အတွက်ဝင်း၊ ဆန်းပြားစွာ ထုစစ်ကိုးကွယ်ပူဇော်မှုများလည်း တွေ့ကြရပါမည်။

<u>(ဘုရားစေတီများနှင့် ရုပ်ထုများဆက်စပ်ပုံ)</u>

<u>(ဘုရားစေတီ၊ ရုပ်ပွားများနှင့် နတ်၊ နဂါး၊ ဘီလူး၊ ခြင်္သေ့၊ ဆင်၊ မြင်း၊ သိုက်စောင့် စသောရုပ်တုများ မဂန်း၊ ရှင်သူငယ် ရုပ်တုများဆက်စပ်တည်ရှိပုံ)</u>

အချို့သော ရောင်ဝါးဝါးရပ်ဝန်းဒေသများတွင် ဘုရားနှင့်တကွ ရုပ်တုများရှိနေခြင်းကို မနှစ်မြို့ဟန် (ဝါ) မကြိုက် - သဘောမကျဟန်များ၊ စကားများ မြင်ရကြားရပါသည်။ အလွန်စိတ်မကောင်းစရာ (တဏှကဝါဒီ) တယူသန် တဖက်စွန်းရောက် သာသနာလေးစားသူသာ ဖြစ်ပါချေတော့သည်။

ဥပမာ - ဘုရားရှင်ကိုယ်တော်တိုင်ရှိစဉ်ကာလ၌ ထုစစ်ကိုးကွယ်ပူဇော်သော စေတီပုထိုးအမျိုးမျိုးတွင် တိရိစ္ဆာန်ရုပ်ပုံများ လူယောက်ျား၊ မိမ္မတို့၏ ရုပ်ပုံများ ရောထွေးယှက်ငင် ထုစစ်ပူဇော်သည့်အသွင် လေ့လာကြည့်ရှုလျှင် သိနိုင်ပေ သည်။

အစွန်းရောက်စကားပြောတတ်သော ပုဂ္ဂိုလ်အချို့ကြောင့် အချို့နားရောင် တတ်သော - ဗဟုသုတမကြွယ်ဝသေးသော ပုဂ္ဂိုလ်တို့အဟုတ် ထင်ရောင်ထင်မှား ဖြစ်နေကြရသည်ကိုလည်း မြင်ဘူးပါသည်။

စဉ်စစ်မှာမူ ဘုရားရှင်ကိုယ်တော်မြတ်သည် တဦးပိုင်၊ အဖွဲ့စည်းပိုင် ပုဂ္ဂိုလ် မဟုတ်ပါ။ အများပိုင် သခင်သာဖြစ်ပါသည်။ ကျွန် (ဝါ) တပည့်မဟုတ်ပါ။ ဦးစီးပဓာန ခေါင်းဆောင်သာလျှင် ဖြစ်ပါသည်။ အများသတ္တဝါ၊ လူ၊ နတ်၊ ပြိတ္တာ သတ္တဝါအားလုံးက ပိုင်ဆိုင်ကြ၊ လေးစားကြ၊ အားကိုးအားထား ပြုကြရသော ပုဂ္ဂိုလ်အကျော် သဗ္ဗညု-ဗုဒ္ဓ ဖြစ်ပါသည်။

စာပေအား ကုန်စင်စွာ မတတ်မြောက်သေးသော သာရက ယုတ္တိဗေဒ ပညာရပ်ကို နားလည်နိုင်စွမ်းမရှိကြသော - မပြည့်စုံသော,အိုး လှုပ်သည့်အခါ ဘောင်ဘင်ခပ်ဘိသကဲ့သို့သာ ရှိပါတော့သည်။ ထိုသို့ ကဲ့ရဲ့ပြစ်တင်ပြောဆိုသော ပုဂ္ဂိုလ်နှင့် ထိုပုဂ္ဂိုလ်၏ မိခင်ဖခင် ဆရာရှင်တို့ မမွေးဖွါးမှီ နှစ်ပေါင်း (၂၅၀၀) အကျော်ကပင် တည်ဆောက်ပူဇော်ခဲ့ကြကုန်သော - ဘုရား၊ ပုထိုး၊ စေတီ၊ ကျောင်း၊ ကန်၊ ဇရပ် တို့တွင် ဗုဒ္ဓဘုရားရှင်နှင့် တိရိစ္ဆာန်များ ဒွေး 'ရောယှက်' တင် ဖြစ်တည်နေပုံ - လူယောက်ျားမိမ္မ၊ နတ်ယောက်ျား မိမ္မ တို့နှင့် အတူတကွ ရှိနေပုံတို့သည် ရှေးပဝေကပင် တည်ရှိခဲ့ပါကြောင်း သိစေအပ်ပါသည်။

(ရုပ်ထုများ ထုစစ်ပူဇော်ရာ၌ သတိပြုရမည့် အချက်များ)

ဗုဒ္ဓရုပ်ပွားများအကြောင်းကို အတန်သိပြီး ဖြစ်သော်လည်း သက်ဆိုင်ပါရှိနေသော ရုပ်ပွါး၊ ရုပ်ထုများ ဆက်စပ်နေပုံကို သိရန် အထူးလိုအပ်ပါသည်။

(ရုပ်ထုများဖြင့် ပူးတွဲပူဇော်ခြင်း)

ဗုဒ္ဓဘုရားရှင်၏ သတ္တဌာန ပူဇော်မှုပြုရလျှင် -

၁။ ဗောဓိသတ္တဟ - တွင် - သုဇာတ သူဌေးသမီးနှင့် ကျွန်မပုံ မပါ၍မရပါ။

၂။ အာဇာာရတနသတ္တဟ တွင် - နတ်များပြောမှား တောင်းပန်မှုရှိနေပါသောကြောင့် နတ်ရုပ်ထုမပါ၍ မဖြစ်ပါ။

၃။ ရတနအဂဃသတ္တဟ - နတ်များပြုလုပ်လှူဒါန်းသော ရတနာရွှေကျောင်း ပူဇော်ရာ၌ နတ်ရုပ်ထုမပါ၍ မဖြစ်ပါ။

၄။ မုံစလိန္ဒာသတ္တဟ တွင် - နတ်နဂါးမင်းစောင့်ရှောက်ပူဇော်ခြင်းပုံအား ဖယ်ရှား၍ မရနိုင်ပါ။

၅။ ကုက္ကုရဓာနသတ္တဟ - ဆိတ်ကျောင်းညောင်ပင်ရင်း၌ ကလေးများ နှင့် ဆိတ်ရုပ်ထုများ ဖယ်ရှား၍ မဖြစ်ပါ။

၆။ ရာဇာရတနသတ္တဟမုဪာ - တွင်လည်း - သဖုဿနှင့် ဗဉ္ဇိတက ညီနောင် နှစ်ပါးရုပ်ထုဖယ်ရှားဖြစ်၍ မဖြစ်ပါ။

၇။ ဓမ္မစက္ကပဝတ္တိနမုဪာတါင် - သားသမင်ရုပ်ထုအား ဖယ်ရှား၍ မရပါ။

၈။ ပုလလဲ ဆင်မင်း စောင့်ရှောက်ခြင်းတွင် - ဆင်ရုပ်မပါ၍ မရပါ။

၉။ မကွေးမြသလွန်၌ ဗောသော/ဗော်ကြော် - ဘိလူးညီနောင်ရုပ်ထုဖယ်၍မရပါ။

၁၀။ တာရောယက္ခ ဘီလူးမင်းအား ကျေးဇူးဆပ်၍ တည်သော ဘုရား - ဘီလူးရုပ်ဖယ်ရှား၍ မရပါ။

၁၁။ သီဟသနု - မင်းတည်ထားကိုးကွယ်ပူဇော်သော ဘုရားတွင် ခြသ်ေ့ရုပ် ထုဖယ်၍ မရပါ။

၁၂။ သီရိဓမ္မသောက မဟာရာဇာ၏ - ခြသ်ေ့တံခွန် ဖယ်ခြင်းငှာ မသင့်ပါ။

၁၃။ မဂန်း၊ ရှင်သူငယ်၊ နတ်မိမယ်နှင့် ဗြဟ္မာနတ်ရုပ် - ကောင်းစွာပြုလုပ်ကြ၍ ဂရင်း၊ နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ ဟူသော စာပေကျမ်းဂန်လာရှိသည်နှင့်အညီ ပူဇော်ခဲ့ကြသော ပူဇော်ထားကြသော ပူဇော်နေကြသော ဖြစ်စဉ်များတွင် မသိလျှင် မေးသင့်ပါသည် ထင်ရာစိုင်း၍ မပြောသင့်ကြောင်း သတိချပ်ပါ။

ရဟန်းဘဝသို့ကူးပြောင်းတတ်လှမ်းရောက်လာသူအား ဦးဆောင်ရဟန်းများမှ - ဗုဒ္ဓအမိန့်ပြန်တမ်း ကမ္မဝါစာဖတ်ကြားရာတွင် နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ၊ နတ်များသိကြစေ။ ဤသူသည် သာသနာတော်တွင်း ဝင်ရောက်၍ သီတင်းသုံးမည်ဖြစ်သောကြောင့် စောင့်ရှောက်ကြစေ၊ နှောင့်ယှက် ခြင်းမပြုလေနှင့်ဟူသော စကားဆုံးမခြင်းကို မြန်မာမှုပြု၍ သိအောင်၊ နားလည်အောင်၊ တတ်အောင်၊ ကျိုးစားထားသင့်လှပါသည်။

မေတ္တာသည်သာ အရာရာအောင်နိုင်ကြောင်းအား အသိကပ်-သတိညှပ်၍ ပြုကောင်းအပ်ကြောင်း ထပ်လောင်း သတိပေးအပ်ပါသည်။

သို့ဖြစ်စဉ်များနှင့်အတူ - ပရိယတ်ဟူသော စာပေအား သရုပ်ခွဲသော်

သုတ္တန်ဒေသနာ = ဗဟုသုတရစေခြင်းအလို့ငှာ ဟောကြားအပ်သော

ဝိနည်းဒေသနာ = လိုက်နာဆောင်ရွက်လေ့ကျင့်အပ်သော

အဘိဓမ္မာဒေသနာ - နှိုင်းစ၊ ချင့်ချိန် ရယူဆောင်ထားပွားများအပ်သော ဟူသော အကြောင်းခြင်းရာများတွင်လည်း ထင်ရှားစွာသော သာဓက ယုတ္တိဗေဒ တို့ဖြင့် ဟောကြားထားအပ်သောကြောင့် ဘုရားစေတီတည်ခြင်း၊ ရေသွင်းပြုလုပ် သက်ဆိုင်စေသာ အရုပ်ထုများသည် ပါယ်ကောင်းသော အရာများ မဟုတ်ကြောင်း သတိပြုသင့်လှချေပြီ။

**'စကားအမှား ပြင်သင့်ပြီ'**

ထေရ်ရဝါဒ ဗုဒ္ဓသာသနာဟု ရေးသွင်းခြင်းသည် မှား၏။

ဗုဒ္ဓသာသနာ ထေရ်ရဝါဒ ဟုရေးသွင်းကြသော် မှန်၏။

**'လွဲများစွာ ခွဲခြားရှုမှတ် ပြောဆိုခြင်း'**

သာသနာ၌ ထေရ်ရဝါဒသာ အမြတ်ဆုံး ဗုဒ္ဓဝါဒ မဟာယာနတို့သည် ပျက်စီးနေသော သာသနာပဟူသော စကားဖြစ်ပေ၏။

ဗုဒ္ဓဖြစ်စဉ်တော်တွင် - ဒို့ဘုရားသည် - မဟာယာန - သကြခတ္တိယ-မင်းစင်စင်ဖြစ်၏။ - ထိုမှတပါးဘုရားဖြစ်အောင်ကြင့်ဆောင်သောကြောင့် ဗုဒ္ဓစင်စင်ဖြစ်ပေါ်ရ၏။ ထိုသို့ သဗ္ဗညုတဗုဒ္ဓ စင်စစ်ဖြစ်မှ ထေရ်ရကို မွေးထုတ် ဖြစ်ပေါ်လာသောကြောင့် ထေရ်ရသည် ဗုဒ္ဓထက် မကြီးသင့်ပါ။

သို့အတွက် - ဘုရားတည်ပြီးမှ ကျောင်းဆောက်ရာ၏ - ဆောက်ပြီးမှ ရေစိမ်ရာ၏ - ဇရပ်ဟူသည် ယာယီတည်းနန်း စခန်းတည်ဆောက်မှု ဖြစ်သောကြောင့် ကြိုတင်၍ ၎င်း၊ နှောင်းမှ၎င်းပြုလုပ်၍ရ၏။

(ဖြစ်စဉ်မှန်အဆိုင်းတည်ဆောက်ပုဇော်ခြင်း)

တစ် ။ လောက၌ ဘုရားစင်စစ်ကေန်ဖြစ်တည်ခြင်းဖြစ်၏။ ပဌမ

နှစ် ။ သို့မှတရားဟောသောကြောင့် တရားဆင့်ပွားရရှိခံစားနိုင်စွမ်းသော ပုဂ္ဂိုလ်တို့ သဃ်ာ (ဝါ) ထေရ်ရဖြစ်လာရ၏။

သုံး။ ထိုဘုရားနှင့်ထေရ်ရများစွာသာ ဖြစ်လာသောအခါ ကျောင်းဆောက်လှူဒါန်းမှုဖြစ်ပေါ်၏။ ဒုတိယ

လေး။ ထိုသို့များပြားပရိပ်သတ်များ သုံးစွဲရန် ပြုလုပ်စီမံ၍ ရေတွင်း၊ ရေကန် ပြုလုပ်ကြ၏။ တတိယ

ငါး ။ များပြားလာသော မင်းပရိသတ် လူပရိသတ်တို့အတွက်-ဇရပ်(ဝါ)မွေ့ရုံ ဆောက်ကြ၏။ စတုတ္ထ

ဤသို့ဖြစ်စဉ်လာအတိုင်းသာလျှင် ပြုလုပ် ဆောင်ရွက်စီမံကြရမည်ဖြစ်ပါသည်။ အမေသည် အဖေမရှိဘဲ ငါ့အားမမွေးနိုင်ဘိသကဲ့သို့တည်း ဘုရားမဖြစ်လာဘဲ ထေရ်ရအရင်ပေါ် ရိုး ထုံးစံမရှိပေ။ သို့ကြောင့် ဘုရား၊ ကျောင်း၊ ကန်၊ ဇရပ်၊ ဆောက်ပါကမှုဖြစ်စဉ်တိုင်းသာ ပြုကျင့်ရာ၏ ဟုဆိုပါသည်။

(အင်္ဂါပြည့်စုံသောနေရာ)

ဘုရား၊ ကျောင်း၊ ကန် - လျှောက်စကြံနှင့်
ဆောက်ထားမွေ့ရုံ - ဇရပ်စုံတို့
ပြုပုံခန်းလှ - ထိုဌာနသည်
တရားစခန်းဖြစ်နေလို့။

(တရားစခန်းတခုတည်ဆောက်ခြင်း (ဝါပုဇော်ခြင်း)

၁။ ဘုရားစေတီ ရှိရပါမည်။

၂။ ကျောင်းရှိရပါမည်။

၃။ ရေရရှိရပါမည်။

၄။ ဓမ္မာရုံရှိရပါမည်။

၅။ ဇရပ်များအဆောင်ဆောင်ရှိရပါမည်။

၆။ ရိက္ခာထောက်ပံ့နိုင်မှုရှိရပါမည်။

၇။ ချက်ပြုတ်ပေးမည့်သူများရှိရပါမည်။

၈။ စီမံဆောင်ရွက်ပေးသူများ ရှိရပါမည်။

၉။ တရားပြဆရာရာ- သယ်ာ၊ ဆရာရှိရပါမည်။

၁၀။ တရားပြကူ သူရှိရပါမည်။

၁၁။ တရားနာသူ - တရားကျင့်သူရှိရပါမည်။

၁၂။ အညစ်အကြေးစွန့်ရန် နေရာများရှိရပါမည်။

စသဖြင့်သောကြောင်းခြင်းရာများ ပြည့်စုံသင့်ပါသည်။ သို့မှသာ အင်္ဂါပြည့်စုံသော တရားစခန်းတခုဖြစ်ပေါ်လာပါမည်။

(ပြုလုပ်ဆောင်ရွက်မှုမှားယွင်းခြင်းကြောင့် ဆုံးရှုံးနစ်နာမှုများ)

ဘုရား၊ ကျောင်း၊ ကန်၊ ဇရပ်၊ ဓမ္မာရုံ အလုံးစုံတည်ဆောက် ပူဇော်ရာတွင် လှူဒါန်းပူဇော်မှု ပြုသည်ဖြစ်ပါသောကြောင့်၊ ကောင်းမှုပြုလုပ်ပူဇော်ခြင်း ဟုသာ လျှင်ပြောဆိုကြရမည်ဖြစ်ပါသည်။

သို့ပြုရာတွင် - ပြုသင့်၊ မသင့်၊ ပြုချိန်၊ ဟုတ်/မဟုတ်၊ ယမ်းထုတ်လုပ်ခြင်းကြောင့် အောက်ပါဆုံးရှုံးနစ်နာမှုများ ဖြစ်နိုင်ပါသည်။

၁။ အသက်သေဆုံးခြင်း
၂။ ရာထူးဂုဏ်သိမ်လျှော့ကျပျက်စီးခြင်း
၃။ စီးပွားဥစ္စာ လျှော့ကျပျက်စီးခြင်း
၄။ မီးလောင်ခြင်း
၅။ ရေနစ်ခြင်း
၆။ မတော်တဆမှုများ မကြာခဏဖြစ်ခြင်း
၇။ ရောဂါဆန်းများရတတ်ခြင်း
၈။ ရူးသွက်ပျံ့လွင့်မှုရောဂါဖြစ်ခြင်း

တည်းဟူသော အကျိုးယုတ်စေသော ဖြစ်စဉ်များ ဖြစ်လာတတ်သည်ကိုလည်း သတိပြုသင့်သည် -

<u>(ပြုလုပ်ဆောင်ရွက်မှု မှန်ကန်ခြင်းကြောင့် ရရှိနိုင်သော အကျိုးထူးများ)</u>

၁။ ပြည့်, ကျင့်, သော ပါရမီ ပြည့်စုံရရှိခြင်း
၂။ တရားထူးကို ရရှိခံစားရစေခြင်း
၃။ ရာထူးဂုဏ်ရှိန်တိုးတက်စေခြင်း
၄။ စီးပွားဥစ္စာတိုးတက်စေခြင်း
၅။ ဆန္ဒရှေ့ရှုမှု လျင်မြန်စွာ အောင်မြင်ခြင်း
၆။ အသက်အန္တရာယ်ဘေးမှ လွတ်မြောက်ခြင်း
၇။ မီး၊ ရေ၊ ခိုးသူတို့ ရှောင်ကွင်းခြင်း

၈။ အစဉ်မျက်နှာ ပွင့်လမ်းခြင်း

၉။ ပြောစကားများ အောင်မြင်ခြင်း

၁၀။ ချစ်ခင်သူတို့ ပေါ်များခြင်း

တည်းဟူသော ဆယ်ပါးသော စွမ်းအားများကို ရစေပါသည်။

ထို့ကြောင့် သင်သည် ဘုရားတည် ကျောင်းဆောက် ရေတွင်း၊ ရေကန်၊ ဇရပ်၊ ဓမ္မာရုံ၊ သိဏ်္ဍ များ ဆောက်လုပ်လှူဒါန်းလိုသော် ပြုနိုင်သူ ဟုတ်၊မဟုတ် သင့်၊မသင့်၊ နိုင်၊မနိုင်တည်းဟူသော အကြောင်းချင်းရာများကို သေချာစွာ သိရှိနားလည်ထားရန် လိုအပ်လှပေသည်။

## " သာသနာတော်အား ထိန်းသိမ်းစောင့်ရှောက်ကြသူများ "

သာသနာတော် ဟူသည်ကား ကျယ်ပြောသော လောကဖြစ်ပါသည်။

ထို့ထည်းတွင် သာသနာတော်အား စောင့်ရှောက်ကြသူများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | | |
|---|---|---|---|
| ၁။ | မင်းရာဇာ | - | တိုင်းပြည်အုပ်ချုပ်ကြသူများ |
| ၂။ | ရဟန်းများ | - | သာသနာအမွေ၊ ပရိယတ် ပရိပါတ်၊ ပရိဝေဒ သုံးရပ်ကို ပြုလုပ်ဆောင်ရွက်ကြသူများ |
| ၃။ | ရသေ့များ | - | သာသနာအမွေထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ပရိယတ်၊ ပရိပါတ်-ပြုလုပ်ဆောင်ရွက်ခြင်း၊ ပရိဝေဒ အမှုပြုခြင်း |
| ၄။ | ယောဂီများ | - | သာသနာတော်အား စောင့်ရှောက်ခြင်း လေ့လာ စည်းပူးခြင်း လိုက်ပါလုပ်ဆောင်ခြင်း |

၅။ ပရိသတ်ပုဂ္ဂိုလ်သတ္တဝါများ- သာသနာတော်အားကြည်ညိုခြင်း၊ လေးစားခြင်း၊လေ့လာခြင်း၊ ထောက်ပံ့ခြင်း၊ဒါနမှုများ အလီလီပြုကျင့်ကြခြင်း၊

၆။ ဒေဝါပရိသတ်များ - ဆော်ဩခြင်း၊ ကြေညာခြင်း၊ လှူဆော်ခြင်း၊ အိမ်မက်ပေးခြင်း၊ စောင့်ရှောက်ခြင်း

၇။ ဂန္ဓပ္ပနတ်များ - စောင့်ရှောက်ခြင်း၊ ကာကွယ်ခြင်း၊ ဝိုင်းဝန်းခြင်း

စသဖြင့်သော ပုဂ္ဂိုလ်အများစုပေါင်း၍ သာသနာ၏ အကျိုးကို တန်ဘိုးထားစောင့်ရှောက်နေကြသည်ကို လေးနက်စွာသတိပြုရမည်ဖြစ်ပါသည်။ သို့အသေးစိတ် သိရှိနားလည်ခြင်း မရှိပါဘဲ လျှက်ပြုခဲ့သည်ရှိသော် အကြောင်းအမျိုးမျိုးပေါ်ပေါက်၍ ကြံ့ကြာခြင်း၊ မပြီးပြတ်ခြင်း၊ ပြဿနာများရှုပ်ထွေးပွေလီခြင်း အားလုံးဖြစ်ပါတော့သည်။

စေတီတည်ထား ပုဂ္ဂိုလ်များသည် ဤကဲ့သို့သသော စေတီ တည်ထားကိုးကွယ်မှုနှင့်ပတ်သက်သောကြောင့် ချဉ်းရာများကို သိရှိနားလည်ရန် လိုအပ်ပါသောကြောင့် စေတနာရှေ့ထားသိသမျှ ရေးသားပါသည်။ အမှားဟုယူစပါက ခွင့်လွှတ်ကြပါရန်။

စေတနာမေတ္တာပင်ရင်းစိတ်အမှန်ဖြင့် ဦးနှိမ်လျှက်

ဦးအောင်မြသုခ

နယ်လှည့်၊ မြွဂန္ဓာရီ ခရီးသည်

ကူးသန်းရောင်းဝယ်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန

သွင်းကုန်လုပ်ငန်းဌာနခွဲမှ ညွှန်ကြားရေးမှူးနှင့်

အရာထမ်း၊ အမှုထမ်းများမှ လှူဒါန်းပါသည်။

"ဟိန်း" ကွန်ပျူတာ၊ နေပြည်တော်မြို့မဈေး၊ ၀၆၇-၄၂၀၄၁၆




ထူပါရုံစေတီ - ကျောင်းဆောင်ခံ၍ပူဇော်ပုံ